


ပုံစံ (မနသ-၂)

၉၄၅၀.၄
၁၁.၈ ၂၀၁၃

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၂၈ / ၂၀၁၃ ။ ၂၀၁၃ ခုနှစ်၊ ဩဂုတ် လ ၂၁ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးစိန်ဌေး

(ခ) အဘ အမည် ဦးတန်အိကုန်း

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင် အမှတ် ၈/မကန(နိုင်) ၀၂၂၁၈၂

(ဃ) နေရပ်လိပ်စာ အမှတ် - ၇(ဘီ)၊ ပြည်တော်သာလမ်း၊ ပြည်တော်သာရပ်ကွက်၊ မကွေးမြို့၊ မကွေးတိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း Kaung Mon (Magway) Construction Co., Ltd

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား B.O.T စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ခြင်းနှင့် လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) မကွေး- မင်းဘူး- ပွင့်ဖြူလမ်းပိုင်း ၃၄ မိုင် ၂ ဖာလုံ

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၃၂၂၀.၆၆ (သန်း) (အမေရိကန်ဒေါ်လာ ၃.၂၀ သန်း အပါအဝင် စုစုပေါင်း ကျပ်သုံးထောင့်နှစ်ရာ နှစ်ဆယ်သန်းနှင့် ခြောက်သိန်း ခြောက်သောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**ကန့်သတ်**

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၆ ဂ /၂၀၁၃ (မနသ)
၂၀၁၃ ခုနှစ် ဩဂုတ်လ ၂၁ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Kaung Mon (Magway) Construction Co., Ltd. မှ မကွေး-မင်းဘူး-ပွင့်ဖြူလမ်းအပိုင်း (၃၄)မိုင်(၂)ဖာလုံအား BOTစနစ်ဖြင့် လမ်းအဆင့်မြှင့်တင်တိုးချဲ့ခြင်းနှင့် လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား (၇-၈-၂၀၁၃)နေ့တွင်ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂၀/၂၀၁၃)အစည်းအဝေးမှ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Kaung Mon (Magway) Construction Co., Ltd.မှ မကွေး-မင်းဘူး- ပွင့်ဖြူ လမ်းပိုင်း (၃၄)မိုင် (၂)ဖာလုံအား BOTစနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ခြင်းနှင့် လမ်းအသုံး ပြုခ ကောက်ခံခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၂၈/၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Kaung Mon (Magway) Construction Co., Ltd.အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁) အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကိုထုတ်ပြန်လိုက်သည်-

(က) ဥပဒေပုဒ်မ ၂၀(က) အရ ဝန်ဆောင်မှုလုပ်ငန်းစီးပွားဖြစ်စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၅)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ် ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

**ကန့်သတ်**

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန် ကိစ္စအလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်ကသတ်မှတ်သည့် ပစ္စည်းတန်ဖိုးလျော့ တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက် ငွေကို အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဈ) အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ၊ နှစ်မျိုးစလုံးကိုဖြစ်စေ ၊ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကိုခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ) အရ ပြည်ပမှ တင်သွင်း သည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်း မည့် ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Kaung Mon (Magway) Construction Co., Ltd.သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်ကို အနိမ့်ဆုံး ရည်မှန်းချက်** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ Kaung Mon (Magway) Construction Co., Ltd.သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများ ကို သီးခြား ပြုစု ထားရှိရမည်။

၆။ Kaung Mon (Magway) Construction Co., Ltd. သည် မကွေး-မင်းဘူး-ပွင့်ဖြူလမ်းပိုင်း (၃၄)မိုင်(၂)ဖာလုံအား BOT စနစ်ဖြင့် ဆောင်ရွက်ရာတွင် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း နှင့် ချုပ်ဆိုမည့် BOT ပဋိညာဉ်စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် Kaung Mon (Magway) Construction Co., Ltd.တို့ မကွေး-မင်းဘူး-ပွင့်ဖြူလမ်းပိုင်း (၃၄)မိုင်(၂)ဖာလုံအား BOT စနစ်ဖြင့်ဖောက်လုပ်၍ လုပ်ငန်းလုပ်ကိုင်ရေး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုး၍ **ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်** ပြီးသည့် အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ **မပျက်မကွက်** ပေးပို့တင်ပြ ရမည်။

၈။ Kaung Mon (Magway) Construction Co., Ltd.သည် မကွေး-မင်းဘူး-ပွင့်ဖြူ လမ်းပိုင်း (၃၄)မိုင်(၂)ဖာလုံအား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ခြင်းနှင့် လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းသက်တမ်းမှာ နှစ်(၄၀)ဖြစ်သည်။ သက်တမ်းကို ရေတွက်ရာတွင် လုပ်ငန်းများကို အပြီးဆောင်ရွက်ပြီးစီးသည့်ရက်နေ့ (သို့မဟုတ်) လုပ်ငန်း ပြီးစီးကြောင်း လက်မှတ် ထုတ်ပေးသည့် ရက်နေ့ ထိုနှစ်ရပ် အနက် စောရာ ရက်နေ့ ကာလမှ စတင် သတ်မှတ်မည်။

၉။ Kaung Mon (Magway) Construction Co., Ltd. သည် ကောက်ခံရရှိသည့် လမ်းအသုံးပြုခမှ "လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသူ" သို့ အောက်ပါအတိုင်း ပေးသွင်းရမည်။

| | | |
|---|---|---|
| (၁) | ပထမ (၃)နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (၂) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | ၅% ပေးသွင်းရန် |
| (၃) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | ၁၀% ပေးသွင်းရန် |
| (၄) | (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ (၁၀)နှစ် | ၁၅% ပေးသွင်းရန် |
| (၅) | (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ (၇)နှစ် | ၂၀% ပေးသွင်းရန် |

(၆) (၄၀) နှစ်ကျော် ကာလ အတွက် အချိန်တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရန် ဖြစ်ပါသည်။

၁၀။ Kaung Mon (Magway) Construction Co., Ltd. သည် လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသည့်ကာလ နှစ်(၄၀)သို့မဟုတ် လုပ်ငန်းဆက်လက်လုပ်ကိုင်ရန် နောက်ထပ်တိုးမြှင့်ကာလ များ ပြီးဆုံးပါက အဆိုပါလမ်းနှင့် ဂိတ်များကို ဖောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့်

အနေအထား အတိုင်း ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ လွှဲပြောင်းပေးရမည်။

၁၁။ Kaung Mon (Magway) Construction Co., Ltd. သည် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉ (ဂ) ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထား ရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန်အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့်စာရင်းဇယားစနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၂။ Kaung Mon (Magway) Construction Co., Ltd. သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ် စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှပြဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေ ကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ Kaung Mon (Magway) Construction Co., Ltd. သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ် လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ Kaung Mon (Magway) Construction Co., Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၆။ Kaung Mon (Magway) Construction Co., Ltd. သည် အဆိုပြုလမ်း အပိုင်း တရားဝင်ဖွင့်လှစ်သည့်နေ့ရက်နှင့် စီးပွားဖြစ်စတင်ဆောင်ရွက်သည့်နေ့ရက်တို့ကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဝင်းရှိန်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ- ၁၃၄၆/၂၀၁၃(၉၄၅၀–င)
ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဩဂုတ်လ ၂၁ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေး၊ သတင်းအချက်အလက် နှင့် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ မကွေးမြို့

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ၊ Kaung Mon (Magway) Construction Co., Ltd.

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၃ ခုနှစ် စက်တင်ဘာလ ၃ ရက်

အကြောင်းအရာ။ **Kaung Mon (Magway) Construction Co., Ltd. မှ မကွေး-မင်းဘူး-ပွင့်ဖြူ လမ်းအပိုင်း (၃၄)မိုင်(၂)ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ တည်ဆောက်၍ လမ်း သုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ မြန်မာကုမ္ပဏီဖြစ်သော Kaung Mon (Magway) Construction Co., Ltd. မှ မကွေး-မင်းဘူး-ပွင့်ဖြူလမ်းအပိုင်း (၃၄)မိုင် (၂)ဖာလုံအား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ခြင်းနှင့်လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုတင်ပြချက်အား (၇-၈-၂၀၁၃)နေ့တွင်ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၀/၂၀၁၃) အစည်းအဝေးမှ ခွင့်ပြုသဖြင့် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၉၂၈/၂၀၁၃ ကို ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ အောက်ဖော်ပြပါ စာရွက်စာတမ်းများအား သက်ဆိုင်ရာ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများ ကြီးကြပ်ရေးဌာနခွဲသို့ လွှဲပြောင်းခွင့်ပြုပါရန် တင်ပြအပ်ပါသည်-

(က) Proposal စာအုပ် (၃) အုပ်
(ခ) ခွင့်ပြုမိန့် (Permit) နှင့် အမိန့် ကြော်ငြာစာ (၃) စုံ
(ဂ) MIC Memo (၁) စုံ

(မီမီသဉ္ဇာချို)
ဦးစီးအရာရှိ

**ဒုတိယညွှန်ကြားရေးမှူး**

၃။ တာဝန်

**ညွှန်ကြားရေးမှူး**

၄။

Kon Mon ns




KOUNG MON (MAGWAY) CONSTRUCTION CO., LTD

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် ။ ။ Kaung Mon/ MIC / Road/ 011

ရက်စွဲ ။ ။ ၂၀၁၃ခုနှစ်၊ ဩဂုတ်လ ( ၂၁ ) ရက်။

အကြောင်းအရာ။ ။ ပြန်လည်ပြင်ဆင်ပေးပို့ခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ **ကောင်းမွန်(မကွေး)ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ** B.O.T စနစ်အရ တာဝန်ယူဆောင်ရွက်မည့် **မကွေး-မင်းဘူး-ပွင့်ဖြူလမ်းပိုင်း (၃၄)မိုင်(၂)ဖာလုံ** အတွက် အဆိုပြုချက်တွင် ဝင်ငွေခွန်(၅)နှစ်ကင်းလွတ်ခွင့်ဖြင့် တွက်ချက်၍ ပြန်လည်ပြင်ဆင်ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

(Sein Htay)
Managing Director
Kaung Mon(Magway) Construction Co.,Ltd.

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| (စ) Hung Kiu (Myanmar) Garment Manufacturing Ltd. ၏ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းအား နိုင်ငံခြားရင်းနှီး မြှုပ်နှံမှု ဥပဒေဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းအား သဘောတူကြောင်းနှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်၊ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ |
| (ဆ) ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် INTERIDGE Company Limited ၏ အလှဆင်စီကွင့်(မ်)များကို CMP စနစ်ဖြင့်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုကြောင်းနှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်၊ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ |
| (ဇ) Kokant Swe Electric Manufacturing Co., Ltd ၏ B.O.O စနစ်ဖြင့် ချားပော်အသေးစား ရေအားလျှပ်စစ် (၂၄၀၀ ကေဗွီအေ) ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်းအား သက်ဆိုင်ရာ ပြည်နယ် အစိုးရထံမှ ခွင့်ပြုချက်ရယူ၍ ဆက်လက် ဆောင်ရွက်ရန်၊ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ |
| (ဈ) Kaung Mon (Magway) Construction Co., Ltd ၏ မကွေး-မင်းဘူး-ပွင့်ဖြူ လမ်းအပိုင်း ၃၄ မိုင် ၂ ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်တိုးချဲ့ တည်ဆောက်၍ လမ်းအသုံးပြုခကောက်ခံခြင်း လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်အား သဘောတူခွင့်ပြုရန်၊ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ |
| (ည) Paw San Rice International Co., Ltd ၏ ဧရာဝတီတိုင်း ဒေသကြီး၊ ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ်တွင် တစ်ရက်လျှင် စပါးတန် ၅၀၀ ကြိတ်ဝါးနိုင်သည့် နိုင်ငံတကာ အဆင့်မီ ဆန်စက်တည်ထောင်၍ အဆင့်အတန်းမြင့် ပြုတ်ဆန် ထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုရန် သဘောတူကြောင်းနှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်၊ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ |

Kaung Mon (Magway) Construction Co., Ltd. မှ မကွေး-မင်းဘူး-ပွင့်ဖြူ လမ်းအပိုင်း (၃၄)မိုင်(၂)ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ တည်ဆောက်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့် စပ်လျဥ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Kaung Mon (Magway) Construction Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးစိန်ဌေး(အဘ-ဦးတန်အိကုန်း)<br>(မန်နေဂျင်းဒါရိုက်တာ) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။) |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - မကွေး-မင်းဘူး-ပွင့်ဖြူလမ်းအပိုင်း(၃၄)မိုင်(၂)ဖာလုံအား BOTစနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ /<br>မြေအကျယ်အဝန်း | - မကွေး-မင်းဘူး-ပွင့်ဖြူလမ်းအပိုင်း(၃၄)မိုင်(၂)ဖာလုံ၊ မကွေးတိုင်းဒေသကြီး။ |
| ၆။ | ရင်းနှီးမြှုပ်နှံမှုပမာဏ<br>ငွေသား<br>စက်ပစ္စည်းကိရိယာများ<br>ကုန်ကြမ်း<br>အဆောက်အဦများ<br>ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | - **ကျပ် ၃၂၂၀.၆၆ သန်း (US$ ၃.၂၀ သန်း အပါအဝင်)**<br>ကျပ် ၄၂၅.၂၂ သန်း<br>ကျပ် ၇၉၈.၀၀ သန်း (US$ ၀.၉၅ သန်း)<br>ကျပ် ၁၈၉၀.၀၀ သန်း (US$ ၂.၂၅ သန်း)<br>ကျပ် ၁၀၄.၀၀ သန်း<br>ကျပ် ၃.၄၄ သန်း |
| ၇။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦးနှစ်(၄၀)နှင့် နောက်ထပ် (၅)နှစ် (၃)ကြိမ် |
| ၈။ | တည်ဆောက်ရေးကာလ | - ၃ နှစ် |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန်<br>လမ်းဖြတ်သန်းခ | <br>- ကျပ် ၅.၄၉ သန်း<br>- ကျပ် ၉.၇၀ သန်း |
| ၁၀။ | လုပ်သားအင်အား(ပြည်တွင်း/ပြည်ပ)<br>- ပြည်တွင်း<br>- ပြည်ပ | <br>- (၃၃)ဦး<br>- (၂) ဦး |
| ၁၁။ | ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်း နှင့် ကုမ္ပဏီ တို့ ချုပ်ဆိုမည့် ပဋိညာဥ်စာချုပ် | - လမ်းဖောက်လုပ်သည့် လုပ်ငန်း ကာလ (တည်ဆောက်ရေးကာလ)မှာ(၃)နှစ်ဖြစ်ပါသည်။(စာချုပ်အပိုဒ် ၈(၁))<br>- လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး နှစ်ဖက် |

| | | |
|---|---|---|
| | (မူကြမ်း)ပါ အဓိကအချက်များ | သဘောတူပါက တစ်ကြိမ်လျှင် (၅)နှစ်စီ ဖြင့် (၃)ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်း သက်တမ်း ကာလကို ရေတွက်ရာတွင် ခွင့်ပြုသတ်မှတ်ထားသည့် လုပ်ငန်း ကာလ (၃)နှစ် အထိ စီမံကိန်း လုပ်ငန်းပါ ဆောင်ရွက်ရ မည့် လုပ်ငန်းများကို အပြီး ဆောင်ရွက်ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း ကာလ (၃)နှစ်ထက်စော၍ ပြီးစီး ပြီး လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့် နေ့ရက်၊ ထိုနှစ်ရပ် အနက် စောရာ နေ့ရက် ကာလမှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။ [စာချုပ်အပိုဒ် ၂၃(ခ/ဂ) ]<br>- ခွင့်ပြုထားသော လမ်းအပိုင်းပေါ်ရှိ တံတားများ အသုံး ပြုခကို ကောက်ခံရာတွင် ပေ(၁၈၀) နှင့် အထက် ရှည် သည့် တံတားများ အတွက် နိုင်ငံတော်မှ တည်ဆောက် ထားသော တံတားများအား လေလံ စနစ်ဖြင့် လည်း ကောင်း၊ သက်ဆိုင်ရာ ကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည် ဆောက်သော တံတားများ အတွက် ဌာန နှင့် ကုမ္ပဏီ တို့၏ ညှိနှိုင်း သဘောတူညီသည့် နှုန်းထားဖြင့်သာ ကောက်ခံမည် ဖြစ်ပါသည်။ (စာချုပ်အပိုဒ်၈-ခ(၁))<br>- စတင်ကောက်ခံသည့် ပထမ(၃)နှစ် ကာလ အတွက် လမ်း အသုံးပြုခမှ နိုင်ငံတော်သို့ ပေးသွင်းခြင်းကို ကင်းလွတ်ခွင့်ပြုသည်။ ကျန်ကာလ အတွက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများအတိုင်း နိုင်ငံတော် သို့ ပေးသွင်းရမည် ဖြစ်ပါ သည်။ (စာချုပ်အပိုဒ် ၅-ပ)<br>(၁) ပထမ (၃)နှစ်အတွက် ကင်းလွတ်ခွင့်ကာလ<br>(၂) (၄)နှစ်မြောက်မှ(၁၃)နှစ် မြောက်အထိ (၁၀)နှစ် ၅% ပေးသွင်းရန်<br>(၃) (၁၄)နှစ်မြောက်မှ(၂၃)နှစ် မြောက်အထိ(၁၀)နှစ် ၁၀% ပေးသွင်းရန်<br>(၄) (၂၄)နှစ်မြောက်မှ(၃၃)နှစ် မြောက်အထိ (၁၀)နှစ် ၁၅% ပေးသွင်းရန် |

| | | |
|---|---|---|
| | | (၅) (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ (၇)နှစ် ၂၀% ပေးသွင်းရန်<br>(၆) ၄၀ နှစ်ကျော် ကာလ အတွက် အချိန်တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရန် ဖြစ်ပါ သည်။<br>- ကုမ္ပဏီမှ ဘဏ်အာမခံကြေးငွေ အဖြစ် စာချုပ် ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ် ၏ (၁)ရာခိုင်နှုန်း နှင့် ညီမျှသောငွေကို ထားရှိပေးရ မည်။ ယင်းသက်တမ်းသည် စတင် ထုတ်ပေးသည့် နေ့မှ လုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည်အထိ ဖြစ်ပါသည်။ ကုမ္ပဏီသည် လုပ်ငန်း စတင်ရန် အကြောင်းကြားစာရပြီး ရက် (၃၀) အတွင်း လုပ်ငန်း စတင်ရန် ပျက်ကွက်လျှင် သော်လည်းကောင်း၊ သတ်မှတ် ကာလ အတွင်း လုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ် အာမခံငွေကို ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းမှ သိမ်းယူရမည် ဖြစ်ပါသည်။ ဘဏ် အာမခံငွေကို လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးပြီး ရက်ပေါင်း (၃၀)အတွင်း ကုမ္ပဏီသို့ ပြန်လည် ထုတ်ပေးရမည်။ (စာချုပ်အပိုဒ် -၆)<br>- ကုမ္ပဏီသည် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း ၏ စာဖြင့် ရေးသားထားသော ခွင့်ပြုချက် မရဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ လုပ်ငန်း တစ်စိတ် တစ်ဒေသကို ထပ်ဆင့် ငှါးရမ်းခြင်း မပြုရ။ (စာချုပ်အပိုဒ် ၅-ထ)<br>- လုပ်ငန်း စတင်သည့်နေ့သည် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ (ဌာန)မှ လုပ်ငန်း စတင်ရန် လုပ်ငန်း လုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ) သို့ အကြောင်းကြားသည့်နေ့ ဖြစ်သည်။ (စာချုပ်အပိုဒ် ၉-ခ) |

| | | |
|---|---|---|
| | | - လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလ နှစ် (၄၀) (သို့မဟုတ်) လုပ်ငန်း ဆက်လက် လုပ်ကိုင်ရန် နောက်ထပ် တိုးမြှင့်သော ကာလများ ပြီးဆုံးပါက အဆိုပါ လမ်း နှင့် တံတားများ၊ ဂိတ်များ နှင့် အဆောက်အဦများ ကို ဖောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထား အတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း သို့ အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ လွှဲပြောင်း ပေးရမည် ဖြစ်ပါသည်။ (စာချုပ်အပိုဒ် -၂၀) |
| ၁၂။ | စိစစ်တွေ့ရှိချက် | - အဆိုပြုလမ်း စီမံကိန်း အတွက် လမ်းအသုံးပြုခ ကို မင်းဘူးဂိတ် နှင့် ပွင့်ဖြူဂိတ် တို့တွင် ကောက်ခံမည် ဖြစ်ပါသည်။ အဆိုပြုလမ်း စီမံကိန်းတွင် ကုမ္ပဏီမှ တည်ဆောက်သော ပေ ၁၈၀ အထက် တံတား မရှိကြောင်း ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၆(က)/မ- ၁၃၄၆ / ၂၀၁၃(၈၄၇၆)
ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဩဂုတ်လ ၂ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Kaung Mon (Magway) Construction Co., Ltd. မှ မကွေး-မင်းဘူး-ပွင့်ဖြူ လမ်းအပိုင်း(၃၄)မိုင်(၂)ဖာလုံအား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်တိုးချဲ့ တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ မြန်မာကုမ္ပဏီဖြစ်သော Kaung Mon (Magway) Construction Co., Ltd. မှ မကွေး-မင်းဘူး-ပွင့်ဖြူ လမ်းအပိုင်း(၃၄)မိုင် (၂)ဖာလုံအား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်တိုးချဲ့ တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီး မြှုပ်နှံသူ ဦးစိန်ငွေး (အဘ-ဦးတန်အိကုန်း)မှ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။

၂။ အဆိုပြုလမ်းစီမံကိန်းအတွက် လမ်းအသုံးပြုခများကို မင်းဘူးဂိတ်၊ ပွင့်ဖြူဂိတ်တို့တွင် ကောက်ခံမည် ဖြစ်ပါသည်။ အဆိုပြု လမ်းစီမံကိန်းတွင် ကုမ္ပဏီမှ တည်ဆောက်သော ပေ ၁၈၀ အထက် တံတား မရှိပါကြောင်း ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်းမှ တင်ပြထားပါသည်။

၃။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်းနှင့် ကုမ္ပဏီတို့ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားနှင့်အညီ ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က)လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ(တည်ဆောက်ရေးကာလ)မှာ (၃)နှစ် ဖြစ်ပါသည်။[စာချုပ်အပိုဒ် ၉-၇(၁)]

(ခ) လုပ်ငန်း သက်တမ်းကာလမှာ နှစ်(၄၀)ဖြစ်ပြီး နှစ်ဖက်သဘောတူပါက တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၃)ကြိမ်တိုးမြှင့်နိုင်သည်။ လုပ်ငန်းသက်တမ်းကာလကို ရေတွက်ရာတွင် ခွင့်ပြု သတ်မှတ်ထားသည့် လုပ်ငန်းကာလ(၃)နှစ် အထိ စီမံကိန်း လုပ်ငန်းပါ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အပြီး ဆောင်ရွက်ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်းကာလ(၃)နှစ်ထက်စော၍ပြီးစီးပြီး လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ရက်၊ ထိုနှစ်ရက်အနက် စောရာ နေ့ရက်ကာလမှ စတင် သက်မှတ်မည် ဖြစ်ပါသည်။ [စာချုပ်အပိုဒ် ၂၃(ခ/၇)]

(ဂ) အဆိုပြု ကုမ္ပဏီမှ အောက်ပါ လမ်း-တံတား အသုံးပြုခ နှုန်းထားများအတိုင်း ကောက်ခံမည် ဖြစ်ပါသည်-(စာချုပ်အပိုဒ် ၈-က)

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခ တစ်မိုင်နှုန်း |
|---|---|---|
| ၁။ | သုံးဘီးဆိုင်ကယ် | ၅ ကျပ် |
| ၂။ | ထော်လာဂျီ(ဒိန်းဒေါင်း)၊ ဆလွန်း၊ ဗင်၊ (၂)တန်အောက် | ၅ ကျပ် |
| ၃။ | Farm Truck (၂ လုံး ထိုး)၊ Double Cab၊ Pajero၊ Parado၊ Micro Bus ၊ Super Custom ခရီးသည် ယာဉ်(လတ်) | ၁၅ ကျပ် |
| ၄။ | ဟိုင်းလတ်၊ လိုက်ထရပ်(သေး) | ၂၀ ကျပ် |
| ၅။ | ဒိုင်နာ၊ ကင်တာ(လတ်) လိုက်ထရပ်(လတ်)(၄)ဘီးကား | ၂၀ ကျပ် |
| ၆။ | Farm Truck ( ၄ လုံးထိုး) | ၃၀ ကျပ် |
| ၇။ | ဒိုင်နာ၊ ကင်တာ၊ လိုက်ထရပ် (ကိုယ်ထည်အလျား= ၁၅ ပေအောက်)(၆)ဘီးကား၊ Mini Bus ခရီးသည် (၂၄)ဦး၊ ဟီးနိုး(သေး)(၂၅)ဦး | ၃၀ ကျပ် |
| ၈။ | ဒိုင်နာ၊ ကင်တာ(ကြီး)၊ (ကိုယ်ထည် အလျား = ၁၅ ပေ အထက်)(၆)ဘီး | ၇၅ ကျပ် |
| ၉။ | BM ခရီးသည်တင်ယာဉ်(လတ်)ခရီးသည်(၂၆ မှ ၃၅)ဦး ထိ | ၃၀ ကျပ် |
| ၁၀။ | ဟီးနိုး၊ ကာကို၊ နိဆန်း၊ ကွန်တို(၆)ဘီးကား (ကုန်တင် ယာဉ်) | ၁၀၀ ကျပ် |
| ၁၁။ | TE 11၊ TE 21၊ GMC၊ Fuso၊ UD ကောင်တာ (၆)ဘီးကား၊ (ကုန်တင် ယာဉ်) | ၁၀၀ ကျပ် |
| ၁၂။ | ဟီးနိုး/ဟွန်ဒိုင်း/ဒေဝူးခရီးသည်တင်ယာဉ်(ကြီး)၊ (ခရီးသည် ၃၆ မှ ၄၅)ဦးထိ | ၅၀ ကျပ် |
| ၁၃။ | ခရီးသည်တင်မှန်လုံယာဉ်ကြီး (ခရီးသည် ၄၆ ဦးနှင့် အထက်) | ၅၅ ကျပ် |
| ၁၄။ | (၆)ဘီးကား၊ ဝင်ရိုး(၂)ခုပါ ကုန်တင်ယာဉ်ကြီး | ၁၀၀ ကျပ် |
| ၁၅။ | (၈)ဘီးကား၊ ဝင်ရိုး(၃)ခုပါ ကုန်တင်ယာဉ်ကြီး | ၁၁၅ ကျပ် |
| ၁၆။ | (၁၀)ဘီးကား၊ ဝင်ရိုး(၃)ခုပါ ကုန်တင်ယာဉ်ကြီး | ၁၂၅ ကျပ် |
| ၁၇။ | (၁၂)ဘီးကား၊ ဝင်ရိုး(၄)ခုပါ ကုန်တင်ယာဉ်ကြီး | ၁၅၀ ကျပ် |
| ၁၈။ | (၁၄)ဘီးကား၊ ဝင်ရိုး(၅)ခု(Lift Axel)ပါ ကုန်တင်ယာဉ် ကြီး(ဘီးအားလုံးလမ်းပေါ် ချ၍ မောင်းနှင်ရမည်) | ၁၇၅ ကျပ် |
| ၁၉။ | (၁၄)ဘီးတွဲကား၊ ဝင်ရိုး(၄)ခုပါ ကုန်တင်ယာဉ်ကြီး (နောက်တွဲပါ) | ၂၀၀ ကျပ် |

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခ တစ်မိုင်နှုန်း |
|---|---|---|
| ၂၀။ | (၁၈)ဘီးတွဲကား၊ ဝင်ရိုး(၅)ခုပါ ကုန်တင်ယာဉ်ကြီး (နောက်တွဲပါ) | ၃၀၀ ကျပ် |
| ၂၁။ | (၂၂)ဘီးတွဲကား၊ ဝင်ရိုး(၆)ခုပါ ကုန်တင်ယာဉ်ကြီး (နောက်တွဲပါ) | ၃၅၀ ကျပ် |
| ၂၂။ | အမှတ်စဉ်(၁၀)မှ(၂၁)အတွင်းပါရှိသောကုန်တင်ယာဉ်များသာ ကုန်မပါ အလွတ်ဖြစ်ပါက | ၁၀၀ ကျပ် |

(ဃ) ခွင့်ပြုထားသော လမ်းအပိုင်းပေါ်ရှိ တံတားများ အသုံးပြုခကို ကောက်ခံရာတွင် ပေ (၁၈၀)နှင့် အထက်ရှည်သည့် တံတားများအတွက် နိုင်ငံတော်မှ တည်ဆောက် ထားသော တံတားများအား လေလံစနစ်ဖြင့် လည်းကောင်း၊ သက်ဆိုင်ရာ ကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်သော တံတားများအတွက် ဌာနနှင့် ကုမ္ပဏီတို့၏ ညှိနှိုင်း သဘောတူညီသည့် နှုန်းထားဖြင့်သာ ကောက်ခံ မည် ဖြစ်ပါသည်။[စာချုပ်အပိုဒ် ၈-ခ(၁)]

(င) စတင်ကောက်ခံသည့် ပထမ(၃)နှစ် ကာလအတွက် လမ်းအသုံးပြုခမှ နိုင်ငံတော်သို့ ပေးသွင်းခြင်းကို ကင်းလွတ်ခွင့်ပြုသည်။ ကျန်ကာလအတွက် အောက်ပါ သတ်မှတ် ထားသည့် ရာခိုင်နှုန်းများအတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည်။

(စာချုပ်အပိုဒ် ၅-ပ)

| | | |
|---|---|---|
| (၁) | ပထမ (၃)နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (၂) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ(၁၀)နှစ် | ၅ % ပေးသွင်းရန် |
| (၃) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | ၁၀ % ပေးသွင်းရန် |
| (၄) | (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ(၁၀)နှစ် | ၁၅ % ပေးသွင်းရန် |
| (၅) | (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ(၇)နှစ် | ၂၀ % ပေးသွင်းရန် |

(၆) ၄၀နှစ်ကျော် ကာလအတွက် အချိန်တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရန် ဖြစ်ပါသည်။

(စ) ကုမ္ပဏီမှ ဘဏ်အာမခံကြေးငွေအဖြစ် စာချုပ်ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ရင်းနှီး မြှုပ်နှံမှု ကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ဘဏ် အာမခံငွေကို ဌာနသို့ ပေးအပ်ရမည်။ ဘဏ်အာမခံသက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ လုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည့်အထိ ဖြစ်ပါသည်။ ကုမ္ပဏီသည် လုပ်ငန်း စတင်ရန် အကြောင်းကြားစာရပြီး ရက် (၃၀) အတွင်း လုပ်ငန်း စတင်ရန် ပျက်ကွက်လျှင် သော်လည်းကောင်း၊ သတ်မှတ်ကာလအတွင်း လုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက် ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်

အာမခံငွေကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူရမည် ဖြစ်ပါသည်။ ဘဏ်အာမခံငွေကို လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း(၃၀) အတွင်း ကုမ္ပဏီသို့ ပြန်လည်ထုတ်ပေးရမည်။ (စာချုပ်အပိုဒ်-၆)

(ဆ) ကုမ္ပဏီသည် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း၏ စာဖြင့် ရေးသားထားသော ခွင့်ပြုချက် မရဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ လုပ်ငန်းတစ်စိတ် တစ်ဒေသကို ထပ်ဆင့် ငှားရမ်းခြင်း မပြုရ။ (စာချုပ်အပိုဒ် ၅-ထ)

(ဇ) လုပ်ငန်းစတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ(ဌာန)မှ လုပ်ငန်း စတင်ရန် လုပ်ငန်း လုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ)သို့ အကြောင်းကြားသည့်နေ့ ဖြစ်သည်။ (စာချုပ်အပိုဒ် ၉-ခ)

(ဈ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလ နှစ်(၄၀)(သို့မဟုတ်) လုပ်ငန်း ဆက်လက်လုပ်ကိုင်ရန် နောက်ထပ် တိုးမြှင့်သော ကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အဦများကို ဖောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။(စာချုပ်အပိုဒ်-၂၀)

၄။ လုပ်ငန်းအဆိုပြုချက်ကို **(နောက်ဆက်တွဲ-က)** ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၃.၂၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၃၂၂၀.၆၆)သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ အမေရိကန်ဒေါ်လာ (၀.၉၅)သန်းဖိုးနှင့် လုပ်ငန်းသုံး ကုန်ကြမ်းပစ္စည်းများ အမေရိကန်ဒေါ်လာ (၂.၂၅)သန်းဖိုးတို့အား ပြည်ပမှ ဝယ်ယူမည် ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

**ကျပ်သန်း**

| | | |
|---|---|---|
| (က) | ငွေသား | ၄၂၅.၂၂ |
| (ခ) | စက်ပစ္စည်းကိရိယာများ | ၇၉၈.၀၀ (US$ ၀.၉၅ သန်း) |
| (ဂ) | ကုန်ကြမ်းပစ္စည်းများ | ၁၈၉၀.၀၀ (US$ ၂.၂၅ သန်း) |
| (ဃ) | အဆောက်အဦများ | ၁၀၄.၀၀ |
| (င) | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ၃.၄၄ |

**စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ၃၂၂၀.၆၆ သန်း (US$ ၃.၂၀ သန်း အပါအဝင်)**

၅။ အဆိုပြုလုပ်ငန်းတွင် ပြည်တွင်းမှ လုပ်သား(၃၃)ဦး၊ ပြည်ပမှ (၂)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံး လစာမှာ တစ်လလျှင် ၄၅,၀၀၀ ကျပ် ဖြစ်ပါသည်။

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၇)နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**ကျပ်သန်း**

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၁၉၄.၀၈ |
| (ခ) | အသုံးစရိတ် | ၁၇၇.၆၁ |
| (ဂ) | အသားတင်အမြတ် | ၁၆.၄၇ |

၇။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၇)နှစ်မြောက်တွင် နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) ဝင်ငွေခွန် | ကျပ် | ၅.၄၉ သန်း |
| (ခ) လမ်းဖြတ်သန်းခ | ကျပ် | ၉.၇၀ သန်း |

၈။ လုပ်ငန်း၏ အရင်းကြေကာလမှာ(၂၈)နှစ် နှင့် (၁၁)လ ဖြစ်ပြီး အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၂.၁၂ % ဖြစ်ပါသည်။

၉။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် (၈-၇-၂၀၁၃)နေ့ ရက်စွဲဖြင့် ဒါရိုက်တာ ဦးသန်းအောင် နှင့် ဦးသက်ဝင်းအမည်ဖြင့် ကမ္ဘောဇဘဏ်ရှိ ငွေလက်ကျန် ကျပ်(၂၁၄.၂၅)သန်း၊ MOB ဘဏ်ရှိ ငွေလက်ကျန် ကျပ်(၄၂၅.၀၀)သန်း၊ ကမ္ဘောဇဘဏ်ရှိ ဦးစိန်ဌေးအမည်ဖြင့် ကျပ် (၆၇၇.၀၀)သန်း စုစုပေါင်း ကျပ်(၁၃၁၆.၂၅)သန်း တင်ပြထားရာ သုံးစွဲရမည့် စုစုပေါင်း ကျပ် (၅၃၂.၆၆)သန်းထက် ကျော်လွန် တင်ပြထားကြောင်း တွေ့ရှိရပါသည်။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် အုပ်ချုပ်မှု ဒါရိုက်တာ ဦးစိန်ဌေး အမည်ဖြင့် MICB ဘဏ်ရှိ (၂-၇-၂၀၁၃)နေ့ ငွေလက်ကျန် US$ (၁၂၈၀၆၄.၉၇) တင်ပြထားရာ သုံးစွဲရမည့် US$ (၃.၂၀)သန်း၏ ၄ % ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၁၀။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ ကောင်းမွန် (မကွေး) ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်အား မကွေး-မင်းဘူး-ပွင့်ဖြူလမ်းအပိုင်း (၃၄/၂)မိုင်အား BOT စနစ်ဖြင့် အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရေးအတွက် (၉-၅-၂၀၁၂)နေ့တွင် ကျင်းပ ပြုလုပ်သည့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး အမှတ်စဉ် (၁၅/၂၀၁၂) မှ သတ်မှတ်ပေးသည့် လုပ်ငန်း ကြိုတင် ဆောင်ရွက်ခွင့် မူဝါဒ(၂၄)ချက်နှင့် ပြည့်စုံသည့် အတွက် လုပ်ငန်းကို ကြိုကြင်ဆောင်ရွက်ရန် ခွင့်ပြုကြောင်းစာကို တင်ပြထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည ၊ ဋ ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြ လျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

၁၂။ သို့ဖြစ်ပါ၍ Kaung Mon (Magway) Construction Co., Ltd. မှ မကွေး-မင်းဘူး-ပွင့်ဖြူ လမ်းအပိုင်း(၃၄)မိုင် (၂)ဖာလုံအား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့ တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)

(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ

407583

ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဇွန်လ ၂၅ ရက်

သို့

**အင်ဂျင်နီယာချုပ်**
**ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း**

အကြောင်းအရာ။ **တံတားစာရင်းပြန်ကြားပေးပါရန်ကိစ္စ**

၁။ အောက်ပါ ကုမ္ပဏီများ၏ တံတားစာရင်းများအား ကော်မရှင် အစည်းအဝေးသို့ တင်ပြနိုင်ရန် အတွက် ပေးပို့နိုင်ပါရန် အကြောင်းကြား အပ်ပါသည် -

(က) Zaykabar Co., Ltd (လှိုင်သာယာ-ဒလ-တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲ လမ်းပိုင်း ၅၉/၆ မိုင် )

(ခ) Kaung Mon (Magway) Construction Co., Ltd (မကွေး-မင်းဘူး-ပွင့်ဖြူ လမ်းအပိုင်း ၃၄/၂ မိုင် )

(သန့်စင်ကြိုင်)
ညွှန်ကြားရေးမှူး

Bridge.doc



သို့/

ဦးသန့်စင်ကြိုင် ( ညွှန်ကြားရေးမှူး)     Fax - 406333

၁။ **ဇေကမ္ဘာကုမ္ပဏီလီမိတက်**

လှိုင်သာ-ဒလ-တွံတေး-ကော့မှူး-ကွမ်းခြံကုန်း-ဒေးဒရဲလမ်း

| တံတားအမည် | ဆောက်လုပ်ရေးမှ တည်ဆောက်သော တံတား | ကုမ္ပဏီမှ တည်ဆောက်သော တံတား |
|---|---|---|
| ပန်းလှိုင်တံတား | ၁၉၄၀' (စီမံကိန်းဝင်နှုန်း) | - |
| တွံတေးတံတား | ၃၅၇၀' (စီမံကိန်းဝင်နှုန်း) | - |

၂။ **ကောင်းမွန် (မကွေး) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်**

မကွေး-မင်းဘူး-ပွင့်ဖြူလမ်း

| တံတားအမည် | ဆောက်လုပ်ရေးမှ တည်ဆောက်သော တံတား | ကုမ္ပဏီမှ တည်ဆောက်သော တံတား |
|---|---|---|
| ဧရာဝတီတံတား (မကွေး) | ၈၉၈၉' (စီမံကိန်းဝင်နှုန်း) | - |
| မုန်းချောင်းတံတား | ၁၃၁၀' (စီမံကိန်းဝင်နှုန်း) | - |
| မန်းချောင်းတံတား | ၉၀၀' (လေလံနှုန်း) | - |

မှ

(သိန်းဇော်)
အင်ဂျင်နီယာချုပ်(လမ်း)

D/MIC Fax

Myanmar Investment Commission

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက် စိစစ်ရေးအဖွဲ့**

ဖက်(စ်)၉၅-၆၇-၄၀၆၁၀၆၁
☎-၀၆၇-၄၀၆၁၃၉၊ ၄၀၆၃၆၂

စာအမှတ်၊ရကက-၆(က)/မ- ၁၃၄၆ /၂၀၁၃( ၅၃၄၅ )
ရက်စွဲ ၊ ၂၀၁၃ ခုနှစ် ဇူလိုင်လ ၈ ရက်

သို့

**မန်နေဂျင်းဒါရိုက်တာ**
**Kaung Mon (Magway) Construction Co., Ltd**

အကြောင်းအရာ။ **Kaung Mon (Magway) Construction Co., Ltd မှ မကွေး-မင်းဘူး-ပွင့်ဖြူ လမ်းအပိုင်း (၃၄)မိုင် (၂)ဖာလုံ အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက် ။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ (၅-၆-၂၀၁၃) ရက်စွဲပါ စာအမှတ်၊ ၁/ ခွဲ-၂/ထွေ/၂၀၁၃(ကုမ္ပဏီ)(စီ ၅၁၅၂)

၁။ Kaung Mon (Magway) Construction Co., Ltd မှ မကွေး - မင်းဘူး - ပွင့်ဖြူလမ်းအပိုင်း(၃၄)မိုင်(၂)ဖာလုံအား BOTစနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ ရည်ညွှန်းချက်ပါ စာဖြင့် အဆိုပြုချက်တင်ပြခြင်းကို အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၁၁/၂၀၁၃)(၂၇-၆-၂၀၁၃)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေး မှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) ကုမ္ပဏီမှ ဝန်ထမ်းများ၏ တစ်နှစ် လစာငွေ ကျပ် (၁၄၄၀၀၀၀) အထက် ရရှိသောဝန်ထမ်းများ၏ ဝင်ငွေခွန်ကို သတ်မှတ်ထားသည့် နှုန်းထားများ အတိုင်း ကုမ္ပဏီ မှ ပေးဆောင် သွားမည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုချက် တင်ပြရန်၊

(ခ) စက်ပစ္စည်း စာရင်းတွင် ဖော်ပြထားသော လူစီး မော်တော်ယာဥ်များအား ပြည်တွင်း မှ ဝယ်ယူရန်၊

(ဂ) မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက် နှင့် လုပ်ငန်းခွင် သာယာရေး နှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက် တင်ပြပေးရန်၊

(ဃ) ငွေကြေး အထောက်အထားအား အဆိုပြုလွှာ တင်ပြစဥ် မတိုင်မီ (၃)လ အတွင်းရှိ ဘဏ်ငွေ လက်ကျန်အခြေအနေ တင်ပြပေးရန်၊

(င) နောက်ဆက်တွဲ (၆) Profit & Loss ဇယားတွင် ဖော်ပြထားသော Administration Cost နှင့် Depreciation တွက်ချက်မှုတို့အား အသေးစိတ် စာရင်းများ ဖော်ပြပေးပါရန်၊

(စ) Machinery & Equipment ခေါင်းစဉ် အောက်ရှိ အမှတ်စဉ်(၂၀)တွင် ပါရှိ သည့် Machinery Spare Part & Road အား အမျိုးအစားခွဲခြား၍ ရှင်းလင်းစွာ ဖော်ပြရန်၊

(ဆ) Environmental Management Plan ရေးဆွဲတင်ပြရန်၊

(ဇ) အဆိုပြုလမ်းပိုင်း ဆောင်ရွက်ခွင့်အတွက် ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ကြိုတင်ခွင့်ပြုမိန့် တင်ပြရန်၊

(ဈ) နောက်ဆက်တွဲ(၅) Toll Fees Income တွက်ချက်မှုအား တိတိကျကျ တွက်ချက်ဖော်ပြရန် နှင့် ဆက်စပ်နေသော တွက်ချက်မှုများအား ပြင်ဆင်ပေးရန်၊

၃။ သို့ဖြစ်ပါ၍အထက်အပိုဒ်(၂)ပါအချက်များအား ပြန်လည်တင်ပြပေးပါရန် အကြောင်းကြားပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ
ရုံးလက်ခံ/ မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အဆိုပြုချက် စိစစ်ရေးအဖွဲ့

ဖက်(စ်) ၉၅-၆၇-၄၀၆၁၀၆၁
☎-၀၆၇-၄၀၆၁၃၉၊ ၄၀၆၁၃၆၂


စာအမှတ်၊ ရက-၆(က)/မ- ၁၃၄၆ / ၂၀၁၃( ၇၄၅၇ )
ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဇူလိုင်လ ၉ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**

အကြောင်းအရာ။ **Kaung Mon (Magway) Construction Co., Ltd မှ မကွေး-မင်းဘူး-ပွင့်ဖြူ လမ်းအပိုင်း (၃၄)မိုင် (၂)ဖာလုံ အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ Kaung Mon (Magway) Construction Co., Ltd မှ မကွေး - မင်းဘူး - ပွင့်ဖြူလမ်းအပိုင်း (၃၄)မိုင်(၂)ဖာလုံအား BOTစနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြခြင်းကို အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၁၁/၂၀၁၃) (၂၇-၆-၂၀၁၃) အစည်းအဝေးသို့ တင်ပြဆွေးနွေးခဲ့ရာ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအဖြစ် ဆောင်ရွက်ရန် လက်ခံနိုင်သည့် လုပ်ငန်းဖြစ်ကြောင်း အကြောင်းကြားအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ဦးဆောင်ညွှန်ကြားရေးမှူး
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

အင်ဂျင်နီယာချုပ်(လမ်း)
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

မန်နေဂျင်းဒါရိုက်တာ
Kaung Mon (Magway) Construction Co., Ltd.

ရုံးလက်ခံ/မျှောစာတွဲ

Kaung Mon REp (1)

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

စာအမှတ်၊ရကက-၆(က)/မ-၁၃၄၆/၂၀၁၃( ၆၇၀၆)

ရက်စွဲ ၊ ၂၀၁၃ ခုနှစ် ၊ ဇွန် လ ၂၄ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **Kaung Mon (Magway) Construction Co., Ltd မှ မကွေး-မင်းဘူး-ပွင့်ဖြူ လမ်း အပိုင်း (၁၄)မိုင်(၂)ဖာလုံ အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Kaung Mon (Magway) Construction Co., Ltd မှ မကွေး - မင်းဘူး - ပွင့်ဖြူ လမ်းအပိုင်း (၁၄)မိုင် (၂)ဖာလုံ အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာန မှ တစ်ဆင့် တင်ပြခြင်းကို လက်ခံ ရရှိခဲ့ပါသည်။

၂။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့် စိစစ်ခဲ့ပြီး Check List ပါ လိုအပ်ချက်များအား ပြည့်စုံစွာ ထပ်မံပေးပို့ပါရန် ကုမ္ပဏီသို့ ပြောကြားပြီး ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Kaung Mon (Magway) Construction Co., Ltd မှ မကွေး - မင်းဘူး - ပွင့်ဖြူလမ်း အပိုင်း (၁၄)မိုင် (၂)ဖာလုံအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ကြိုတင် စိစစ်ပေးပါရန် တင်ပြခြင်း အပေါ် အဖွဲ့ဝင်များနှင့် ဌာနများမှ ကြိုတင်စိစစ်ချက်အရ လိုအပ်ချက်များ၊ ပြင်ဆင် ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံး လုပ်နည်းနှင့် မညီညွတ်သည့် ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

(သန့်စင်ကြိုင်၊ ညွှန်ကြားရေးမှူး)

မိတ္တူ - ရုံးလက်ခံ

လျှို့ဝှက်

Kaung Mon (Magway) Construction Co., Ltd မှ
မကွေး-မင်းဘူး-ပွင့်ဖြူ လမ်းအပိုင်း (၃၄)မိုင်(၂)ဖာလုံ အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် နှင့် စပ်လျဉ်းသည့်
**အဓိက အချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Kaung Mon (Magway) Construction Co., Ltd |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးစိန်ဌေး (မန်နေဂျင်းဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - မကွေး- မင်းဘူး- ပွင့်ဖြူ လမ်းပိုင်း (မကွေး- မင်းဘူး (၅)မိုင် (၂)ဖာလုံ နှင့် မင်းဘူး-ပွင့်ဖြူ (၂၉) မိုင်) စုစုပေါင်း (၃၄)မိုင် (၂)ဖာလုံ အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတားအသုံးပြုခကောက်ခံခြင်း လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - မကွေး - မင်းဘူး - ပွင့်ဖြူလမ်းပိုင်း၊ မကွေးတိုင်းဒေသကြီး (၃၄)မိုင် (၂)ဖာလုံ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၃၂၂၀.၆၆ သန်း (US$ ၃.၂၀သန်း အပါအဝင်) |
| | - ငွေပမာဏ | ကျပ် ၄၂၅.၂၂ သန်း |
| | - အဆောက်အုံများ | ကျပ် ၁၀၄.၀၀ သန်း |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ကျပ် ၃.၄၄ သန်း |
| | - စက်ပစ္စည်းကိရိယာများ | ကျပ် ၇၉၈.၀၀ သန်း (US$ ၀.၉၅ သန်း) |
| | - ကုန်ကြမ်းပစ္စည်းများ | ကျပ် ၁၈၉၀.၀၀ သန်း (US$ ၂.၂၅ သန်း ) |
| ၆။ | ရင်းနှီးမြှုပ်နှံမှု သက်တမ်း | - (၄၀)နှစ် |
| ၇။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - အသွား/အပြန်ခရီးအတွက် မင်းဘူး-ပွင့်ဖြူ-မင်းဘူး |
| ၈။ | ဝင်ငွေ (တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း (၇)နှစ် မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - ကျပ် ၁၉၄.၃၉ သန်း |
| ၉။ | အသားတင်အမြတ် (၇ နှစ်မြောက်) | - ကျပ် ၂၀.၀၈ သန်း |

| | | |
|---|---|---|
| ၁၀။ | ဝန်ထမ်းအင်အား (ပြည်တွင်း) | |
| | - တည်ဆောက်ရေးကာလ အတွင်း | - (၁၆၀)ဦး |
| | - လုပ်ငန်းဆောင်ရွက်သည့် ကာလအတွင်း | - (၃၅)ဦး |
| | - ပြည်ပ | - (၂)ဦး |
| ၁၁။ | အရင်းကြေကာလ | - (၂၈)နှစ် |
| ၁၂။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂.၃၇% |
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ်(၇ နှစ်မြောက်) | |
| | - ဝင်ငွေခွန် ၂၅ % | - ကျပ် ၆.၆၉ သန်း |
| | - လမ်းတံတားဖြတ်သန်းခရငွေ | - ကျပ် ၉.၇၂ သန်း |
| ၁၄။ | ငွေကြေးအထောက်အထား | - နိုင်ငံခြားငွေ အထောက်အထားအဖြစ် အုပ်ချုပ်မှုဒါရိုက်တာ ဦးစိန်ဌေးအမည်ဖြင့် MICB ရှိ (၁၆-၁၀-၂၀၁၂)နေ့ ငွေလက်ကျန် US$ (၀.၂၁)သန်း တင်ပြထားရာ သုံးစွဲမည့်ငွေ US$ (၃.၂၀)သန်း၏ (၇) ရာခိုင်နှုန်းရှိပြီး၊ ကျပ်ငွေ အထောက်အထား အဖြစ် ဦးစိန်ဌေး အမည်ဖြင့် ကမ္ဘောဇဘဏ်ရှိ (၁၇-၁၀-၂၀၁၂) နေ့ငွေလက်ကျန် (၆၀၇.၂၅) သန်း၊ ဒါရိုက်တာ ဦးသန်းအောင်နှင့် ဦးသက်ဝင်း အမည်ဖြင့် ပထမ ပုဂ္ဂလိက ဘဏ်ရှိ (၂၆-၁၀-၂၀၁၂)နေ့ ငွေလက်ကျန် (၃၀၅.၇၄)သန်း ၊ ကမ္ဘောဇဘဏ်ရှိ(၂၅-၁၀-၂၀၁၂)နေ့ငွေလက်ကျန်(၁၈၂.၈၇) သန်း စုစုပေါင်း (၁၀၉၅.၈၆) သန်း တင်ပြထားရာ သုံးစွဲမည့် ငွေကျပ်(၅၃၂.၂၇) သန်း အတွက် လုံလောက်မှုရှိပါသည်။ |
| ၁၅။ | အခြားတင်ပြချက် | ဌာနနှင့် ကုမ္ပဏီတို့ ချုပ်ဆိုထားသည့် BOT လုပ်ငန်း သဘောတူစာချုပ် (မူကြမ်း) နှင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြ ထားပါသည်။<br>- စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(က)လမ်းဖောက်လုပ်သည့်လုပ်ငန်းကာလ(တည်ဆောက်ရေး ကာလ) မှာ (၃)နှစ်ဖြစ်ပါသည်။ [စာချုပ်(မူကြမ်း)အပိုဒ်-၉ ဂ (၁)]<br>(ခ) လုပ်ငန်း သက်တမ်း ကာလမှာနှစ်(၄၀)ဖြစ်ပြီး၊ တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၃)ကြိမ် သက်တမ်းတိုးမြှင့်ရန်လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူထံတင်ပြနိုင်ပါသည်။<br>[စာချုပ်(မူကြမ်း)အပိုဒ်-၅ ယ] |

(ဂ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် စာချုပ်ချုပ်ဆိုပြီး (၃၀) ရက်အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့်ညီမျှသောငွေကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံအတွင်းရှိ တရားဝင် ခွင့်ပြုထားသော ဘဏ်တစ်ခုခု မှ ထုတ်ပေး သည့် ကြိုတင် စည်းကမ်းချက်များ မပါရှိဘဲ ပြန်လည် ရုပ်သိမ်းနိုင်ခွင့် မရှိသော လုပ်ငန်း အကောင်အထည်ဖော်ရန်တာဝန်ယူသည့် ဘဏ်အာမခံကိုလုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံပေးအပ်ရမည်။
[စာချုပ်(မူကြမ်း)အပိုဒ်-၆]

(ဃ) တံတားအသုံးပြုခများကို ကောက်ခံရာတွင် ပေ (၁၈၀) အထက်ရှည်သည့် တံတားများ အတွက် နိုင်ငံတော်မှ တည်ဆောက် ထားသော တံတားများအား လေလံစနစ်ဖြင့်လည်းကောင်း၊ သက်ဆိုင်ရာကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်သောတံတားများအတွက် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ငန်း လုပ်ကိုင်ခွင့် ရသူတို့၏ ညှိနှိုင်းသဘော တူညီသည့် နှုန်းထားဖြင့် ကောက်ခံရမည် ဖြစ်သည်။ [စာချုပ်(မူကြမ်း)အပိုဒ်-၈ ခ(၁)]

(င) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းလုပ်ကိုင် ခွင့်ပြုသူ၏ စာဖြင့် ရေးသားထားသော ခွင့်ပြုချက် မရဘဲ လုပ်ငန်းကိုလွှဲပြောင်းခြင်း၊ လုပ်ငန်းတစ်စိတ်တစ်ဒေသကို ထပ်ဆင့်ငှားရမ်းခြင်းမပြုရ။ [စာချုပ်(မူကြမ်း) အပိုဒ်-၅ ထ]

(စ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ၏ စာဖြင့်ရေးသားထားသော ခွင့်ပြုချက်မရဘဲ လမ်း၊ တံတား အသုံးပြုခကောက်ခံရေးဂိတ်များနှင့် ကောက်ခံသည့်နှုန်းထားများကိုပြောင်းလဲခြင်းမပြုရ။
[စာချုပ်(မူကြမ်း) အပိုဒ်-၅-ခ ]

(ဆ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် စာချုပ်ပါ လုပ်ငန်းလုပ်ကိုင်ခွင့် ကာလ ကုန်ဆုံးပါက အဆိုပါ လမ်း၊ တံတားများ၊ဂိတ်များနှင့်အဆောက်အဦများကိုကောင်းမွန်သော အနေအထားအတိုင်း လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံ အဖိုးစားနားမဲ့ လွှဲပြောင်းပေးရမည်။
[စာချုပ်(မူကြမ်း) အပိုဒ်-၂၀ ]

၁၆။ ကော်မရှင်ရုံးအဖွဲ့ မှ စိစစ်တင်ပြချက်

- ဝင်ငွေ၊ နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် နှင့် အရင်းအနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) တို့မှာ ဌာနမှ တင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။
- ယာဉ်အမျိုးအစား အလိုက် ကောက်ခံမည့်ခန့်မှန်း ဈေးနှုန်း အား တွက်ချက်တင်ပြထားပါသည်။
- ကုမ္ပဏီမှ ဝန်ထမ်းများ၏ လစာငွေမှာ (၁၄၄၀၀၀၀) အထက် ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန်ကို သတ်မှတ်ထားသည့် နှုန်းထားများအတိုင်း ကုမ္ပဏီမှ ပေးဆောင်သွားမည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုချက် လိုအပ်ပါသည်။
- စက်ပစ္စည်းစာရင်းတွင် ဖော်ပြထားသော လူစီး မော်တော် ယာဉ်များကို ပြည်တွင်းမှ ဝယ်ယူရန်၊
- မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက် နှင့် လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက် တင်ပြပေးရန်၊
- ငွေကြေးအထောက်အထားကို up date တင်ပြပေးရန်၊
- တည်ဆောက်ရေးကာလ နှင့် လုပ်ငန်း လည်ပတ်မည့် ကာလ အတွက် ဝန်ထမ်းလစာ စာရင်းကို နှစ်အလိုက် ဖော်ပြပေးရန်၊
- အနိမ့်ဆုံး ဝန်ထမ်း လစာကို ကျပ်(၉၀၀၀၀) ပြင်ပေးရန်၊
- ကုမ္ပဏီမှဖောက်လုပ်မည့် လမ်းအပိုင်းအတွက် တည်ဆောက် မည့် တံတားစာရင်း ဖော်ပြပေးရန်၊
- နောက်ဆက်တွဲ(၆) Profit & Loss ဇယားတွင် ဖော်ပြထား သော Electricity & Others ၊ Administration Cost နှင့် Depreciation တို့၏ အသေးစိတ် စာရင်းများ ဖော်ပြပေး ရန်၊

လျှို့ဝှက်

| |
|---|
| ကြေးနန်းလိပ်စာ - "စိစစ်တိုး" |
| တယ်လီဖုန်းအမှတ်- ၄၀၆၀၆၅ |
| - ၄၀၆၀၆၆ |
| - ၄၀၆၀၆၇ |
| - ၄၀၆၀၆၈ |
| - ၄၀၆၀၆၉ |
| - ၄၀၆၀၇၀ |
| - ၄၀၆၀၇၁ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန
ရုံးအမှတ်၃၂ ၊ နေပြည်တော်

စာအမှတ်၊စစတ- ဦး / ၇၂၁(၁၇၆၄/၂၀၁၃)

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဖွန်လ ၂၈ ရက်

**အမှာစာ**

အကြောင်းအရာ။ **Kaung Mon (Magway) Construction Co., Ltd. မှ မကွေး-မင်းဘူး-ပွင့်ဖြူလမ်း အပိုင်း (၃၄)မိုင် (၂)ဖာလုံ အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၁-၆-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက- ၆(က)/မ-၁၃၄၆/၂၀၁၃(၆၆၁၀)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ Kaung Mon (Magway) Construction Co., Ltd. မှ မကွေး-မင်းဘူး-ပွင့်ဖြူလမ်း အပိုင်း (၃၄)မိုင် (၂)ဖာလုံ အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စအပေါ် စီးပွားရေးတွက်ချက်မှုဆိုင်ရာ ကိစ္စရပ်များအား စိစစ်ပြီး တွေ့ရှိချက်များ ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ တင်ပြလာသည့် ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာပါ ငွေသားစီးဆင်းမှု စာရင်းများကို အခြေခံ၍ စိစစ်တွက်ချက်ရာ အောက်ပါအတိုင်း တွေ့ရှိရပါကြောင်း ပြန်ကြားအပ်ပါသည်-

(က) ငွေသားစီးဆင်းမှုစာရင်း (Cash Flow) မှ အချက်အလက်များဖြင့် တွက်ချက်ရာ ရင်းနှီးမြှုပ်နှံမှုအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၂% ရရှိသဖြင့် ကုမ္ပဏီမှ တွက်ချက် တင်ပြထားသည်နှင့် ကိုက်ညီမှုရှိသည်ကို တွေ့ရှိရပါကြောင်း၊ အကျိုးအမြတ်နှင့် ကုန်ကျစရိတ်အချိုးမှာ ၀.၄၂ ရရှိပြီး အသားတင်လက်ငင်းတန်ဖိုးမှာ ကျပ်(-၂၂၅၀.၉၄)သန်း ဖြစ်ပါကြောင်း၊

(ခ) တွက်ချက်ရရှိသော အရင်းကြေကာလမှာ ၂၈ နှစ် ဖြစ်သဖြင့် ကုမ္ပဏီမှ တွက်ချက် တင်ပြ ထားသည်နှင့် ကိုက်ညီမှုရှိသည်ကို တွေ့ရှိရပါကြောင်း၊



လျှို့ဝှက်

